၁၂။ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏
သဘောထားမှတ်ချက်နှင့် အညီ ဆောင်ရွက်မည့်အစီအစဉ် တင်ပြခြင်း



# Shwe Taung
## Energy Co.,Ltd.

High Tech Tower
No.(584),
Corner of 7th Street & Strand Road,
Lanmadaw Township,Yangon, Myanmar.

Tel : 95-1-211430, 218285. Fax : 95-1-218286, 218287.

02291

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရုံးအမှတ်(၃၂)
နေပြည်တော်။

စာအမှတ်၊ ၊ STE / MD / 063 / 2013

ရက်စွဲ၊ ၊ ၂၀၁၃ ခုနှစ်၊ မေလ (၇)ရက်။

အကြောင်းအရာ ။ ။ သီလဝါဆိပ်ကမ်းနယ်မြေတွင်ရွှေတောင်စွမ်းအားဝန်ဆောင်မှုကုမ္ပဏီလီမိတက်မှဆောင်ရွက်မည့် စက်သုံးဆီသိုလှောင်ကန်စီမံကိန်းအတွက် မြေပေါ်သိုလှောင်ခွင့် "L" လိုင်စင်ပါကန့်သတ်ချက်များ အတိုင်းဆောင်ရွက်မည့်ကိစ္စ။

အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်-ကျောက်တန်းနယ်မြေ၊ သီလဝါဆိပ်ကမ်းဒေသရှိ အကွက်အမှတ် (၁၊ ၂ (ဂ)) ရှိ မြေ (၂၄. ၇၁)ဧကတွင် B.O.T စနစ်ဖြင့် စက်သုံးဆီ တင်/ချ ဆိပ်ခံတံတား တည်ဆောက်ပြီး စက်သုံးဆီ သိုလှောင်ဖြန့်ဖြူးသည့် ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြချက်အပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ သတ္တုတွင်းဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင် တင်ပြရန် အကြောင်းကြားလာပါသည်။

သို့ဖြစ်ပါ၍ အောက်ပါအတိုင်း ပြန်လည်တင်ပြအပ်ပါသည်။

(၁) ကျွန်တော်များ Shwe Taung Energy Services Co.,Ltd. မှ စက်သုံးဆီ မြေပေါ်ကန်(၃)လုံး တည်ဆောက်သိုလှောင်သွားမည်ဖြစ်ရာ မြေပေါ်သိုလှောင်ခွင့် "L" လိုင်စင်ပါ ကန့်သတ်ချက်များအရ ဂါလန်(၁)သိန်း အထက်သိုလှောင်ကန်များဖြစ်သည့်အတွက် သိုလှောင်ကန်တစ်ကန်နှင့် တစ်ကန်အကြားတွင် ဘေးကင်းမှု အကွာအဝေး (၁၀၀)ပေ ခွာ၍ တည်ဆောက်မည်ဖြစ်ကြောင်း လေးစားစွာဖြင့် တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

(အောင်ဇော်နိုင်)
အုပ်ချုပ်မှုဒါရိုက်တာ
Shwe Taung Energy Services Co.,Ltd.




# Shwe Taung
## Energy Co.,Ltd.

**High Tech Tower**
No.(584),
Corner of 7th Street & Strand Road,
Lanmadaw Township, Yangon, Myanmar.

Tel : 95-1-211430, 218285. Fax : 95-1-218286, 218287.


သို့ 02286

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရုံးအမှတ်(၃၂)

နေပြည်တော်။

စာအမှတ်၊ ၊ STE / MD / 059 / 2013

ရက်စွဲ၊ ၊ ၂၀၁၃ ခုနှစ်၊ ဧပြီလ (၂၉)ရက်။

အကြောင်းအရာ ။ ။ သီလဝါဆိပ်ကမ်းနယ်မြေတွင်ရွှေတောင်စွမ်းအားဝန်ဆောင်မှုကုမ္ပဏီလီမိတက်မှဆောင်ရွက်မည့် စက်သုံးဆီသိုလှောင်ကန်စီမံကိန်းအတွက်ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆောင်ရွက်မည့်ကိစ္စ။

ရည်ညွှန်းချက် ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၅. ၄. ၂၀၁၃) ရက်စွဲပါ စာအမှတ်၊ ရက-၆(က)/မ-၁၃၁၁/၂၀၁၃(၄၉၅၇)

အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်-ကျောက်တန်းနယ်မြေ၊ သီလဝါဆိပ်ကမ်းဒေသရှိ အကွက်အမှတ်(၁၊ ၂ (ဂ)) ရှိ မြေ (၂၄. ၇၁)ဧကတွင် B.O.T စနစ်ဖြင့် စက်သုံးဆီ တင်/ချ ဆိပ်ခံတံတား တည်ဆောက်ပြီး စက်သုံးဆီ သိုလှောင်ဖြန့်ဖြူးသည့် ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြချက်အပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းချက်ပါစာအရ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်တင်ပြရန် အကြောင်းကြားလာပါသည်။

၁။ သို့ဖြစ်ပါ၍ အောက်ပါအတိုင်း ပြန်လည်တင်ပြအပ်ပါသည်။

(က) စက်သုံးဆီသိုလှောင်ဖြန့်ဖြူးသည့် လုပ်ငန်းဖြစ်သည်နှင့်အညီ မီးဘေးအန္တရာယ် မကျရောက်စေရေးအတွက် ခေတ်မီနိုင်ငံတကာအဆင့်မီ မီးဘေးကာကွယ်ရေးစနစ်များ၊ မီးငြိမ်းသတ်ရေးစနစ်များနှင့် မီးဘေးအန္တရာယ်ကျရောက်ပါက ဆောင်ရွက်ရမည့် လုပ်ငန်းစဉ်များကိုပါ စနစ်တကျ စီမံချက်ရေးဆွဲ၍ ဆောင်ရွက်မည်ဖြစ်ပါသည်။စက်သုံးဆီသိုလှောင်ဖြန့်ဖြူးရေးလုပ်ငန်းစီမံကိန်း ဧရိယာအတွင်း မီးဘေးအန္တရာယ် တားဆီးကာကွယ်ရေးလုပ်ငန်းနှင့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးလုပ်ငန်းတွင် လိုအပ်သလို အသုံးချနိုင်စေရန်အတွက် ၈၅ပေ x ၅၀ပေ ရေကန်(၁)လုံးကို တူးဖော်ထားရှိမည်ဖြစ်ပါသည်။

ထို့အပြင် နိုင်ငံတော်မှ ပြဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေနှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော် ဆောင်ရွက်သွားမည်ဖြစ်ကြောင်းနှင့် လူမှုဖွံ့ဖြိုးရေးအစီအမံများကိုလည်း ထည့်သွင်း ဆောင်ရွက်သွားမည်ဖြစ်ကြောင်း လေးစားစွာဖြင့် တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

(အောင်ဇော်နိုင်)

အုပ်ချုပ်မှုဒါရိုက်တာ

Shwe Taung Energy Services Co.,Ltd.

# ၁၃။ သဘာဝပတ်ဝန်းကျင် ညစ်ညမ်းမှုမရှိစေရန် ဆောင်ရွက်ထားမှု အခြေအနေတင်ပြခြင်း

## သီလဝါဆိပ်ကမ်းနယ်မြေတွင် ရွှေတောင်စွမ်းအင်ဝန်ဆောင်မှုကုမ္ပဏီလီမိတက်အနေဖြင့် စက်သုံးဆီ တင်/ချ ဆိပ်ခံတံတားနှင့်အထောက်အကူပြုအဆောက်အဦများတည်ဆောက်၍ စက်သုံးဆီများ သိုလှောင်သည့် ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းဆောင်ရွက်မှုတင်ပြချက်

### နိဒါန်း

၁။ ရွှေတောင်စွမ်းအင်ဝန်ဆောင်မှုကုမ္ပဏီလီမိတက်သည်ရန်ကုန်တိုင်းဒေသကြီးသန်လျင်-ကျောက်တန်းနယ်မြေ၊ သီလဝါဆိပ်ကမ်းဒေသရှိ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မြေ၊ မြေကွက်အမှတ် (၁-၂)-(ဂ) တွင် စက်သုံးဆီ တင်/ချ ဆိပ်ခံတံတားနှင့်အထောက်အကူပြုအဆောက်အဦများတည်ဆောက်၍ စက်သုံးဆီများ သိုလှောင်သည့် ဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်ရန် ခွင့်ပြုချက်ရရှိခဲ့ပါသည်။ ယင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြလျှောက်ထား ဆောင်ရွက်လျက်ရှိပါသည်။

### ရည်ရွယ်ချက်

၂။ ရွှေတောင်စွမ်းအင်ဝန်ဆောင်မှုကုမ္ပဏီလီမိတက်သည် နိုင်ငံတော်မှ စက်သုံးဆီသိုလှောင်ဖြန့်ဖြူးသည့်လုပ်ငန်းကို တိုင်းရင်းသားလုပ်ငန်းရှင်များသို့ လွှဲပြောင်းလုပ်ကိုင်ဆောင်ရွက်ခွင့်ပြုချက်အရ စက်သုံးဆီများတင်သွင်း၍ သိုလှောင်ဖြန့်ဖြူးရာတွင် သဘာဝပတ်ဝန်းကျင်ကို ထိခိုက်မှုမရှိစေဘဲ ထိန်းသိမ်း၍ ဆောင်ရွက်နိုင်စေရန် ဖြစ်ပါသည်။

### တည်ဆောက်ရေးလုပ်ငန်းများ

၃။ ရွှေတောင်စွမ်းအင်ဝန်ဆောင်မှုကုမ္ပဏီလီမိတက်သည် သီလဝါဆိပ်ကမ်းနယ်မြေ၊ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မြေကွက်အမှတ် (၁-၂)-(ဂ) တွင် စက်သုံးဆီ တင်/ချ ဆိပ်ခံတံတားနှင့် အထောက်အကူပြုအဆောက်အဦများကို အောက်ပါအတိုင်း တည်ဆောက်အကောင်အထည်ဖော်မည် ဖြစ်ပါသည်-

(က) စက်သုံးဆီသိုလှောင်ကန်များ တည်ဆောက်ခြင်း

- (၁) ဂါလံ ၁. ၁ သန်းဆံ့ စက်သုံးဆီသိုလှောင်ကန် (၂)လုံး
- (၂) ဂါလံ ၂. ၂ သန်းဆံ့ စက်သုံးဆီသိုလှောင်ကန် (၁)လုံး

(ခ) ဆက်စပ်အဆောက်အဦများ တည်ဆောက်ခြင်း

| | | | |
|---|---|---|---|
| (၁) | ရုံးအဆောက်အဦ | (၄၈ ပေ × ၂၈ ပေ) | ၁ ခု |
| (၂) | ဆီပြည့်အဆောက်အဦ | (၈၀ ပေ × ၄၀ ပေ) | ၁ ခု |
| (၃) | Gate House | (၂၀ ပေ × ၁၆ ပေ) | ၂ ခု |
| (၄) | Security Guard Post | ( ၉ ပေ × ၉ ပေ ) | ၅ ခု |
| (၅) | Store | (၄၀ ပေ × ၃၀ ပေ) | ၁ ခု |
| (၆) | Pump House | (၁၆ ပေ × ၁၆ ပေ) | ၂ ခု |
| (၇) | Shipping Office | (၁၆ ပေ × ၁၆ ပေ) | ၁ ခု |
| (၈) | Water Pump House | (၁၂ ပေ × ၁၂ ပေ) | ၁ ခု |
| (၉) | 10,000 Gal Main Ground Tank | (၂၀ ပေ × ၁၀ ပေ) | ၁ လုံး |
| (၁၀) | 2400 Gal Ground Tank | (၁၀ ပေ × ၈ ပေ) | ၁ လုံး |

(၁၁) 300,000 Gal Ground Tank(Fire Fighting) (၈၅ ပေ × ၅၀ ပေ) ၁ လုံး
(၁၂) Over Head Tank (အမြင့် ၃၀ ပေ ) ၄ ခု
(၁၃) Weigh Bridge အဆောက်အဦ (၅၀ ပေ × ၁၅ ပေ) ၁ ခု
(၁၄) Generator House (၂၄ ပေ × ၁၂ ပေ) ၁ ခု
(၁၅) ကွန်ကရစ်လမ်း

သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှု

၄။ စက်သုံးဆီတင်/ချ ဆိပ်ခံတံတားနှင့် အထောက်အကူပြုအဆောက်အဦများ တည်ဆောက်မည့် သီလဝါ ဆိပ်ကမ်းဒေသရှိ မြေကွက်အမှတ် (၁-၂)-(ဂ) မှာ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မြေဖြစ်၍ ဆိပ်ကမ်းဒေသဖွံ့ဖြိုးတိုးတက်လာစေရန် ဆောင်ရွက်မည့်ဒေသဖြစ်ပါသည်။ အဆိုပါမြေနေရာတွင် ရှေးဟောင်းဘုရားပုထိုး၊ကျောင်းကန်များနှင့် ကင်းလွတ်သည့်နေရာဖြစ်သကဲ့သို့ လူနေကျေးရွာ၊ ရပ်ကွက်များနှင့် တစ်သီးတစ်ခြား တည်ရှိသည့်နေရာ ဖြစ်ပါသည်။

၅။ တည်ဆောက်ရေးလုပ်ငန်းများမှာ စက်သုံးဆီတင်/ချဆိပ်ခံတံတားနှင့် အထောက်အကူပြုအဆောက်အဦများတည်ဆောက်မည်ဖြစ်ရာ စီမံကိန်းတည်ဆောက်ရေးကာလအတွင်း ဆောက်လုပ်ရေးလုပ်ငန်းမှထွက်ရှိလာမည့်အမှိုက်များနှင့် စွန့်ပစ်ပစ္စည်းများကို သတ်မှတ်ထားသည့် စည်းမျဉ်းစည်းကမ်းများနှင့်အညီ စနစ်တကျစွန့်ပစ်ဆောင်ရွက်မည်ဖြစ်ပါသည်။

၆။ တည်ဆောက်ရေးကာလအတွင်း အသုံးပြုသည့် စက်ယန္တရားများနှင့် ယာဉ်များကိုလည်း လုပ်ငန်းခွင်အတွင်း စနစ်တကျ ထိန်းသိမ်းဆောင်ရွက်မည်ဖြစ်၍ ပတ်ဝန်းကျင်အတွက် အနှောင့်အယှက်ကင်းရှင်းမည် ဖြစ်ပါသည်။

၇။ စက်သုံးဆီသိုလှောင်ကန်စခန်း ဧရိယာအတွင်း ရေစီးရေလာကောင်းမွန်စေသည့် ရေထုတ်စနစ်များကို ထည့်သွင်းတည်ဆောက်မည်ဖြစ်ပါသည်။ ရုံးအဆောက်အဦများမှ စွန့်ထုတ်အညစ်အကြေးများ၊ ဆီသိုလှောင်ကန်ဧရိယာမှ ဆေးကြောသန့်စင်ရာတွင် ဆီပါဝင်သည့် စွန့်ထုတ်ရေများ၊ အရေးပေါ်မီးငြိမ်းသတ်ရာမှထွက်ရှိလာသော စွန့်ထုတ်ရေများကို အဆင့်ဆင့် စနစ်တကျစွန့်ပစ်ရေးအတွက် အစီအမံများဆောင်ရွက်မည် ဖြစ်ပါသည်။

၈။ ရုံးအဆောက်အဦများ အတွင်းတွင်လည်း သန့်စင်ခန်းများ၊ အလုံအလောက် ထားရှိခြင်း၊ အမှိုက်ပုံးများထားရှိခြင်း၊ အဆောက်အဦများ၏ ပတ်ဝန်းကျင် သန့်ရှင်းရေးလုပ်ငန်းများ အမြဲတစေဆောင်ရွက်ခြင်း၊ ရေနုတ်မြောင်းများမှ အနံ့အသက်များ မရှိစေရေးအတွက် ရေစီးရေလာကောင်းမွန်အောင် ပြုပြင်ထိန်းသိမ်းသည့်လုပ်ငန်းများကို အမြဲမပြတ် ဂရုပြုဆောင်ရွက်မည်ဖြစ်ပါသည်။

၉။ စက်သုံးဆီသိုလှောင်ဖြန့်ဖြူးသည့်လုပ်ငန်း ဖြစ်သည်နှင့်အညီ မီးဘေးအန္တရာယ် မကျရောက်စေရေးအတွက် ခေတ်မီနိုင်ငံတကာအဆင့်မီ မီးဘေးကာကွယ်ရေးစနစ်များ၊ မီးငြိမ်းသတ်ရေးစနစ်များနှင့် မီးဘေးအန္တရာယ်ကျရောက်ပါက ဆောင်ရွက်ရမည့် လုပ်ငန်းစဉ်များကိုပါ စနစ်တကျ စီမံချက်ရေးဆွဲ၍ ဆောင်ရွက်မည်ဖြစ်ပါသည်။ စက်သုံးဆီသိုလှောင်ဖြန့်ဖြူးရေးလုပ်ငန်းစီမံကိန်း ဧရိယာအတွင်း မီးဘေးအန္တရာယ် တားဆီးကာကွယ်ရေးလုပ်ငန်းနှင့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးလုပ်ငန်းတွင် လိုအပ်သလို အသုံးချနိုင်စေရန်အတွက် ၈၅ပေ × ၅၀ပေ ရေကန် (၁)လုံးကို တူးဖော်ထားရှိမည်ဖြစ်ပါသည်။

၁၀။ ဆိပ်ကမ်းမျက်နှာစာနှင့် စက်သုံးဆီသိုလှောင်စခန်းဝင်းအတွင်း လမ်းများ၊ အဆောက်အဦများ၊ ဆောက်လုပ်မည့်နေရာများအတွက် မြေယာပြုပြင်ခြင်းလုပ်ငန်းများကို ပြုလုပ်ပြီးဖြစ်သည့်အလျောက်

အရိပ်ရအပင်များ၊ ပန်းအလှပင်များ၊ မြက်ခင်းများကို စိုက်ပျိုးသွားမည်ဖြစ်ပါသည်။ စီမံကိန်းဧရိယာအတွင်း သင့်လျော်သည့် အရိပ်ရအပင်များ၊ ပန်းအလှပင်များကို စခန်းဧရိယာအတွင်း စိမ်းလန်းစိုပြေရေးနှင့် ပသာဒ ကောင်းမွန်စေရေးတို့အတွက် စနစ်တကျ စီမံဆောင်ရွက်သွားမည် ဖြစ်ပါသည်။

၁၁။ စက်သုံးဆီသိုလှောင်စခန်းများတည်ရှိရာ သီလဝါဆိပ်ကမ်းဒေသတွင် ပင်မလမ်းမကြီးကို ဖောက်လုပ်လျက်ရှိရာ ရွှေတောင်စွမ်းအင်ဝန်ဆောင်မှုကုမ္ပဏီလီမိတက်က မြေကွက်အမှတ် (၁-၂)-(၇) တွင် ဆောင်ရွက်မည့် စက်သုံးဆီသိုလှောင်ကန် တည်ဆောက်ရေးလုပ်ငန်း စီမံကိန်းဧရိယာသို့ ဆက်သွယ်သည့် ချဉ်းကပ်လမ်းအပါအဝင် စီမံကိန်းဧရိယာအတွင်း ဝင်ထွက်လမ်းများကို စနစ်တကျ ဖောက်လုပ်ထား သည်ဖြစ်ရာ ပတ်ဝန်းကျင်ဒေသခံများအတွက် သွားလာရေးအဆင်ပြေခြင်း၊ စီးပွားရေး၊ ကျန်းမာရေး၊ ပညာရေး၊ လူမှုရေးကိစ္စများ ဖွံ့ဖြိုးလာမည် ဖြစ်သကဲ့သို့ အလုပ်အကိုင်အခွင့်အလမ်းများလည်း ပေါ်ပေါက် လာမည် ဖြစ်ပါသည်။

<u>နိဂုံး</u>

၁၂။ ရွှေတောင်စွမ်းအင်ဝန်ဆောင်မှုကုမ္ပဏီလီမိတက်အနေဖြင့် သီလဝါဆိပ်ကမ်းနယ်မြေရှိ မြန်မာ့ ဆိပ်ကမ်းအာဏာပိုင်မြေကွက်အမှတ် (၁-၂)-(၇) တွင် စက်သုံးဆီသိုလှောင်ကန် တည်ဆောက် သည့် လုပ်ငန်းအား အကောင်အထည်ဖော်ရာတွင် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းထားရှိရေးကို တာဝန်တစ်ရပ် အဖြစ် အလေးထားခံယူ၍ စဉ်ဆက်မပြတ် ဂရုပြုထိန်းသိမ်းဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း တင်ပြအပ် ပါသည်။

Shwe Taung Energy Services Co., Ltd.

# သီလဝါဆိပ်ကမ်းဒေသ စက်သုံးဆီ တင်/ချ ဆိပ်ခံတံတားစီမံကိန်း

## မီးဘေးအန္တရာယ်ကြိုတင်ကာကွယ်ရေး စီမံချက်

# မီးဘေးအန္တရာယ်ကြိုတင်ကာကွယ်ရေးစီမံချက်"

## နိဒါန်း

၁။ Shwe Taung Energy Services Co., Ltd. သည် သီလဝါဆိပ်ကမ်း Depot တွင် ရေနံထွက် ပစ္စည်းရောင်းဝယ်ရေး လုပ်ငန်းနှင့် ကုမ္ပဏီပိုင်စက်သုံးဆီအရောင်းဆိုင်များသို့ စက်သုံးဆီ(လောင်စာ)များ ဖြန့်ဖြူးရာ၌ မိမိလုပ်ငန်းမှ မီးစတင် လောင်ကျွမ်းမှု မဖြစ်ပေါ်ရေး၊ ပြင်ပမီးလောင်ကျွမ်းမှုမဖြစ်ပေါ်ရေး၊ ပြင်ပမီးလောင်ကျွမ်းမှုမှ မကူးစက်ရေးအတွက် မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်ရေးစီမံချက်ကို ရေးဆွဲထားရှိပြီး ကြိုတင်ဇာတ်တိုက် လေ့ကျင့်မှုများနှင့် အသင့် ပြင်ဆင်ထားရှိရန် စီစဉ် ဆောင်ရွက်သွားပါမည်။

၂။ သို့ဖြစ်ပါ၍ မီးကို ရန်သူအဖြစ် သတ်မှတ်၍ မီးဘေးအန္တရာယ်ကြိုတင်ကာကွယ်ရေးစီမံချက်အား ရေးဆွဲရခြင်း ဖြစ်ပါသည်။

၃။ စက်သုံးဆီများ သယ်ယူခြင်း ၊ သိုလှောင်ခြင်း ၊ ဖြန့်ဖြူးခြင်း ၊ ရောင်းချခြင်းများ ဆောင်ရွက်ရာတွင် မီးလောင်မှု ဖြစ်ပွားရာမှ တဆင့် ကူးစက်ပြန့်နှံ့ခြင်းကြောင့်လည်းကောင်း၊ လျှပ်စစ်မီးကြိုးများ၊ မီးခလုပ်များ ချို့ယွင်းမှုကြောင့် ဖြစ်ပေါ်နိုင်သည့် မီးပွားများမှ ကူးစက်ခြင်းကြောင့်လည်းကောင်း၊ မီးလောင်ကျွမ်းမှု ဖြစ်ပေါ်နိုင်သည့် စက်သုံးဆီများနှင့် စပ်လျဉ်း၍ မီးဘေးအန္တရာယ် မဖြစ်ပေါ်ရေးသည် အရေးကြီးဆုံးဖြစ်ပါသည်။

## ရည်ရွယ်ချက်

၄။ သီလဝါဆိပ်ကမ်း Depot တွင် မီးဘေးအန္တရာယ်မဖြစ်ပေါ်စေရေးအတွက် ကြိုတင်ကာကွယ်ရန်နှင့် ဖြစ်ပွားပါက အချိန်မီ စနစ်တကျ မီးငြိမ်းသတ်ရန် ရည်ရွယ်ပါသည်။

## အင်အား

၅။ မီးဘေးအန္တရာယ်ကြိုတင်ကာကွယ်ရေးကော်မတီဖွဲ့စည်းခြင်း

(၁) မီးဘေးအန္တရာယ်ကြိုတင်ကာကွယ်ရေးအတွက် အောက်ပါပုဂ္ဂိုလ်များဖြင့် မီးဘေးအန္တရာယ်ကြိုတင်ကာကွယ်ရေး ကော်မတီအဖွဲ့အား ဖွဲ့စည်းထားပါသည်။

| | | |
|---|---|---|
| (၁) General Manager | - | အဖွဲ့ခေါင်းဆောင် |
| (၂) Operation Department Head | - | ဒု-အဖွဲ့ခေါင်းဆောင် |
| (၃) Admin Department Head | - | အဖွဲ့ဝင် |
| (၄) Logistic Department Head | - | အဖွဲ့ဝင် |
| (၅) Finance & Account Department Head | - | အဖွဲ့ဝင် |

(၂) သီလဝါဆိပ်ကမ်း Depot တွင် မီးဘေးအန္တရာယ်ကြိုတင်ကာကွယ်ရေးဆပ်ကော်မတီများအား အောက်ပါပုဂ္ဂိုလ်များဖြင့် ဖွဲ့စည်းထားပါသည်။

| | | |
|---|---|---|
| (၁) Depot တာဝန်ခံ | - | အဖွဲ့ခေါင်းဆောင် |
| (၂) Logistic တာဝန်ခံ | - | ဒု-အဖွဲ့ခေါင်းဆောင် |
| (၃) Store တာဝန်ခံ | - | အဖွဲ့ဝင် |
| (၄) Admin & HR တာဝန်ခံ | - | အဖွဲ့ဝင် |

ဆောင်ရွက်ရန်နည်းလမ်း

၆။ အောက်ပါအတိုင်းဆောင်ရွက်ရပါမည်-

(က) လှုံ့ဆော်ပညာပေးခြင်းနှင့် ဇာတ်တိုက်လေ့ကျင့်ခြင်း။

(ခ) မီးကင်းများထားရှိပြီး ကြိုတင်ကာကွယ်ထားခြင်း။

(ဂ) လက်ဦးမှုရယူပြီး စနစ်တကျငြိမ်းသတ်ခြင်း၊

လှုံ့ဆော်ပညာပေးခြင်းနှင့်ဇာတ်တိုက်လေ့ကျင့်ခြင်း

၇။ (က) မီးလောင်ကျွမ်းမှုကြောင့် ပိုင်ဆိုင်ပစ္စည်းများ ဆုံးရှုံးခြင်း၊ အိုးမဲ့အိမ်မဲ့ဖြစ်ခြင်း၊ ထိခိုက်ဒဏ်ရာရခြင်းနှင့် အသက်ဆုံးရှုံးခြင်းများကို ဝန်ထမ်းအားလုံး သဘောပေါက်နားလည်အောင် ရှင်းလင်းရန်နှင့် ကြော်ငြာများ ကပ်ထားရန်၊

(ခ) မီးသတ်တပ်ဖွဲ့၏ အကူအညီဖြင့် ပညာပေးရေးအစီအစဉ်များ၊ မီးသတ်နည်းစနစ်များကို ရှင်းလင်းစေပြီး လက်တွေ့ဇာတ်တိုက်လေ့ကျင့်ရန်၊

(ဂ) မီးသတိပြုရေးနှင့်ပက်သက်သည့် ပညာပေးဆိုင်းဘုတ်များ၊ သတိပေးအမှတ်အသားများကို မြင်သာအောင် ရေးသားချိတ်ဆွဲထားရန်၊

မီးကင်းများထားရှိပြီး ကြိုတင်ကာကွယ်တားဆီးရန်

၈။ မီးဘေးကြိုတင်ကာကွယ်တားဆီးခြင်းသည် အကောင်းဆုံးနှင့် အမှန်ကန်ဆုံးနည်းလမ်းဖြစ်သဖြင့် အောက်ပါအတိုင်း ဆောင်ရွက်ရန် စီစဉ်ထားပါသည်၊

(က) မီးသတ်ဆေးဗူးများကို အသင့်ထားရှိရန်နှင့် ဆေးအာနိသင်ရှိအောင် အမြဲစစ်ဆေးထားရှိရန်။

(ခ) မီးသတ်ပစ္စည်းများဖြစ်သည့် သဲပုံး၊ ဂေါ်ပြား ၊ ရေကန်၊ ရေပုံး၊ မီးချိတ်နှင့် မီးကပ်များကို အသင့်ထားရှိရန်။

(ဂ) Depot ဝန်းအတွင်းသို့ မီးခြစ်နှင့်ဆေးလိပ်များ (လုံးဝ)လုံးဝ ယူဆောင်လာခြင်း မပြုရန် တင်းကြပ်စွာ တားမြစ်ရန်၊

(ဃ) Depot အတွင်းမှ ဆီတင်/ဆီချနေစဉ် အောက်ပါအတိုင်းဆောင်ရွက်ရန် စီစဉ်ထားပါသည်၊

(၁) Depot ဝန်းတံခါးပိတ်ထားရန်၊

(၂) မီးသတ်ဆေးဗူးများနှင့် ဝန်ထမ်းများအား အသင့် တာဝန်ချထားရန်၊

(င) ဆီတင်/ဆီချနေစဉ် ယာဉ်များ စက်ရပ်ထားရန်၊

(စ) Depot ဝန်း အတွင်းအပြင် သန့်ရှင်းရေး အမြဲလုပ်ဆောင်ရန်၊

(ဆ) အောက်ပါ သတိပေးဆိုင်းဘုတ်များကို ထားရှိရန် စီစဉ်ဆောင်ရွက်ထားပါသည်၊

(၁) ဆီတင်/ဆီချစဉ် စက်ရပ်ထားပါ၊

(၂) ဆေးလိပ်မသောက်ရ၊

(၃) မီးသတိပြု မီးလောင်လွယ်သည်၊

(၄) မီးသတ်ဦးစီးဌာနမှ ထုတ်ပြန်သည့် ပညာပေးနှင့် သတိပေး လက်ကမ်းကြော်ငြာများ

(ဇ) ကြိုတင်ဇာတ်တိုက်လေ့ကျင့်မှုများပြုလုပ်ရန်၊

(ဉ) စက်သုံးဆီများကို သတ်မှတ်ချက်နှင့်အညီ သိုလှောင်ထားနိုင်ရေး စီစဉ်ထားရှိရန်၊

(ဋ) သိုလှောင်ကန်အဖုံးများနှင့် ဆီချပိုက်အဖုံးများကို အမြဲသော့ခတ် ဖုံးအုပ်ထားရှိရန်၊

(ဌ) Depot အတွင်း Hand Phone များ အသုံးပြုခြင်းမရှိစေရန်နှင့် သတိပေးစာများ မြင်သာသည့် နေရာတွင်ကပ်ထားရန်၊

မီးငြိမ်းသတ်ရေးအဖွဲ့

၉၊ မီးလောင်မှုဖြစ်ပွားပါက အရေးပေါ်အချိန် သတ်မှတ်ရမည်၊ စနစ်တကျ မီးငြိမ်းသတ်နိုင်ရေးအတွက် ကွပ်ကဲမှု အဖွဲ့စည်းနှင့် တာဝန်သတ်မှတ်ခြင်းများကို အောက်ပါအတိုင်း စီစဉ်ဆောင်ရွက်ထားပါသည်၊

(က) မီးဘေးအန္တရာယ်ကြိုတင်ကာကွယ်ရေးဆပ်ကော်မတီ

(ခ) တာဝန်သတ်မှတ်ခြင်း

(၁) မီးသတ်ဆေးဗူး တာဝန်ကျသူများက ဆေးဗူးဖြင့် အမြန်ဆုံးငြိမ်းသတ်ရန်၊

(၂) သဲပုံးတာဝန်ကျသူများက အမြန်ဆုံးသဲဖြင့် ဖြန်းပက်ငြိမ်းသတ်ရန်၊

(၃) ရေကန်၌တာဝန်ကျသူများက မီးမလောင်သည့် ပတ်ဝန်းကျင်အဆောက်အအုံများကို အမြန်ဆုံး ဖြန်းပက်ထားရန်၊ ဆီပေပါ၊ ဆီတိုင်ကီ မီးလောင်ပါက ရေဖြင့် ဖြန်းပက်ခြင်းမပြုရန်၊ မီးသတ်ဆေးဗူးဖြင့် ပတ်ဖြန်း ငြိမ်းသတ်ရန်၊

(၄) အဖွဲ့ခေါင်းဆောင်မှ လျှပ်စစ်မီး မိန်းခလုပ်ကိုပိတ်ရန်၊

(၅) ဒုတိယအဖွဲ့ခေါင်းဆောင်မှ အောက်ပါဌာနများသို့ တယ်လီဖုန်း/ဆက်သားဖြင့် အမြန်ဆုံး အကြောင်းကြားရန်၊

(က) မီးသတ်တပ်ဖွဲ့

(ခ) လျှပ်စစ်ရုံး

(ဂ) ရုံးချုပ်

(ဃ) မြန်မာနိုင်ငံရဲတပ်ဖွဲ့

(၆) ဒုတိယခေါင်းဆောင်သည် စာရင်းဇယားများ စာရွက်စာတမ်းများ (Soft Copy & Hard Copy) နှင့် ငွေကြေးများကို သိမ်းဆည်းရန်၊

(၇) လုံခြုံရေးတာဝန်ကျသူက ဝန်းတံခါးပိတ်ထားရန်နှင့် မသက်ဆိုင်သူများအား ဝန်းအတွင်းသို့ ဝင်ရောက်ခြင်း လုံးဝမပြုရန်၊

(၈) ဆီသိုလှောင်ကန်အဖုံးများ၊ ဆီချပိုက်အဖုံးများကို သော့များဖြင့်ဖုံးအုပ်ထားရန်၊

(၉) ရွှေ့ပြောင်းနိုင်သော ပစ္စည်းများကို မီးလွတ်ရာသို့ ရွှေ့ပြောင်းရန်၊

(၁၀) အဖွဲ့ခေါင်းဆောင်ကွပ်ကဲမှုအရ ဆောင်ရွက်ရန်နှင့် အဖွဲ့ခေါင်းဆောင်မရှိက ဒုတိယအဖွဲ့ခေါင်းဆောင်မှ ကွပ်ကဲရန်၊

(၁၁) အာဏာပိုင်အဖွဲ့အစည်းများမှ ပုဂ္ဂိုလ်များရောက်ရှိလာပါက ညှိနှိုင်းဆောင်ရွက်ရန်၊

(၁၂) မီးငြိမ်းသတ်ပြီးပါက အဖွဲ့ခေါင်းဆောင်သည် အသေးစိတ်ဖြစ်ရပ်ကို တယ်လီဖုန်းဖြင့်လည်းကောင်း၊ စာဖြင့် လည်းကောင်း၊ ရုံးချုပ်နှင့်ဒေသဆိုင်ရာ အာဏာပိုင်အဖွဲ့အစည်းသို့ အမြန်ဆုံးအစီရင်ခံရန်၊

(၁၃) မီးသတ်ဆေးဗူး၊သဲများ၊ရေများကို အမြန်ဆုံး ပြန်လည်ဖြည့်ဆည်းရန်၊

(၁၄) Depot ဝန်းအတွင်း သန့်ရှင်းရေး ဆောင်ရွက်ရန်၊

(၁၅) အခြားလိုအပ်ချက်များ ဆောင်ရွက်ရန်၊

<u>ပြင်ပဝန်းကျင်မီးလောင်ခြင်း</u>

၁၀၊ (က) လုပ်ငန်းဆောင်ရွက်ချိန်

(၁) မီးလောင်မှုသတင်းကို ဆက်သွယ်မှုရရှိပါက လုပ်ငန်းများ ခေတ္တရပ်ထားရန်၊

(၂) မိမိဝန်ထမ်းများအား တာဝန်အလိုက် သတ်မှတ်နေရာများ၌ အသင့်ရှိနေစေရန်၊

(၃) ဝန်းတံခါးပိတ်ထားပြီး မသက်ဆိုင်သူများ ဝန်းအတွင်းမှ အမြန်ထွက်ခွာစေရန်၊

(၄) အဖွဲ့ခေါင်းဆောင်သည် မီးလောင်မှုအခြေအနေကို လေ့လာရန်နှင့် ရုံးချုပ်သို့ ဆက်သွယ်သတင်းပို့ရန်၊

(၅) ဒုတိယအဖွဲ့ခေါင်းဆောင်သည် စာရင်းဇယားနှင့် ငွေကြေးများသိမ်းဆည်းထားရန်၊

(၆) မီးကူးစက်လာပါက သတ်မှတ်ထားသည့်အတိုင်း မီးငြိမ်းသတ်ရန်၊

(ခ) Depot ပိတ်ချိန်

(၁) တာဝန်ကျ လုံခြုံရေးဝန်ထမ်းသည် မီးလောင်ကြောင်း သိလျှင်သိချင်း Depot တာဝန်ခံထံသို့ ကိုယ်တိုင်သွားရောက်ခြင်းမပြုဘဲ ဖြစ်သည့်နည်းဖြင့် အကြောင်းကြားရန်။

(၂) မီးလောင်ကြောင်းသိလျှင်သိချင်း Depot ဝန်ထမ်းအားလုံးသည် မိမိ Depot သို့ အမြန်ဆုံး သွားရောက်စုစည်းပြီး လိုအပ်သလို ဆောင်ရွက်ရန်။

(၃) အဖွဲ့ခေါင်းဆောင်သည် မီးအခြေအနေကို ကြည့်ရှုပြီး လိုအပ်သလိုဆောင်ရွက်ရန်။

ပစ္စည်းများပြောင်းရွှေ့ရာတွင်-

ဦးစားပေး(၁) ငွေကြေးနှင့် အရေးကြီးစာရွက်စာတမ်းများ၊ (Computer Soft Copy)

ဦးစားပေး(၂) စက်သုံးဆီ၊ လျှပ်စစ်ပန်း၊ ဂါလန်ခြင်ခွက်၊ ဆီတိုင်းပေတံ

ဦးစားပေး(၃) ကျန်ရွှေ့ပြောင်းနိုင်သည့် ပစ္စည်းများ

<u>ဆက်သွယ်သတင်းပို့ရေး</u>

၁၄။ အောက်ပါအတိုင်း ဆက်သွယ်သတင်းပို့ရန်နှင့် ဆက်သွယ်ရမည့် တယ်လီဖုန်းနံပါတ်များကို ကြိုတင်ရယူပြီး မိမိဝန်ထမ်းအားလုံးအား အသိပေးထားပါသည်။

(က) မီးသတ်တပ်ဖွဲ့

(ခ) မြန်မာနိုင်ငံရဲတပ်ဖွဲ့ ရင်းတပ်ဖွဲ့

(ဂ) မြန်မာ့လျှပ်စစ်ဓါတ်အားလုပ်ငန်း

(ဃ) ရုံးချုပ်

၁၅။ တယ်လီဖုန်းဆက်သွယ်ရန် ခက်ခဲသည့်ဒေသများတွင် ဆက်သားစနစ်ဖြင့် ဆောင်ရွက်ရန် အသိပေးထားပါသည်။

<u>နိဂုံး</u>

၁၆။ ဤမီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်သည် Depot တာဝန်ခံနှင့် ဝန်ထမ်းများအားလုံးမှ မိမိဌာနနှင့် ရုံးချုပ်၏ လမ်းညွှန်ချက်များအား လိုက်နာလျက် ကုမ္ပဏီပိုင်ပစ္စည်းများအား မီးဘေးအန္တရာယ်ကြောင့် လေလွင့်ဆုံးရှုံးမှု မဖြစ်ပေါ်စေရေးအတွက် အထူး အလေးထား ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

**Shwe Taung Energy Services Co., Ltd.**

**Ahlone Tower , River View Garden Housing , Strand Road ,**

**Ahlone Township , Yangon .**

Phone : +95-1-211430

Fax : +95-1-225007

စာအမှတ် ၊ ၊ STES / D(HO) / 003 / 2013

ရက်စွဲ ၊ ၊ ၂၀၁၃ ခုနှစ် ၊ ဖေဖော်ဝါရီလ (၂၆)ရက်၊

အကြောင်းအရာ ။ ။ လုပ်ငန်းခွင်သာယာရေးနှင့်ဝန်ထမ်းများသက်သာချောင်ချိရေးအစီအစဥ်တင်ပြခြင်းကိစ္စ၊

အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ ရန်ကုန်တိုင်းဒေသကြီး ၊ ကျောက်တန်းမြို့နယ် အတွင်းရှိ သီလဝါဆိပ်ကမ်းဒေသ ၊ အမှတ်(၁ ၊၂ (က))တွင် BOT စနစ်ဖြင့် စက်သုံးဆီတင်/ချ ဆိပ်ခံတံတားနှင့် စက်သုံးဆီ သိုလှောင်ကန်များ တည်ဆောက်ကာ စက်သုံးဆီများအား သိုလှောင်သည့် ဝန်ဆောင်မှုလုပ်ငန်းကို တည်ဆောက်ဆောင်ရွက်မည် ဖြစ်ရာ လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းများသက်သာချောင်ချိရေးအစီအစဥ်ကို အောက်ပါအတိုင်း စီစဥ်ထားမည်ဖြစ်ကြောင်း တင်ပြအပ်ပါသည်၊

၁။ ဝန်ထမ်းများအတွက် ဝန်ထမ်းအိမ်ရာများကို လိုအပ်သလို တည်ဆောက်ပေးထားမည်ဖြစ်ပြီး ၊ အကြို/အပို့ မော်တော်ယာဥ် များကိုလည်း စီစဥ်ပေးထားမည်ဖြစ်ပါသည်၊

၂။ ဝန်ထမ်းများ ဗဟုသုတ တိုးပွားစေရန်အတွက် စာကြည့်တိုက်တစ်ခု ဖွင့်လှစ်ထားရှိမည်ဖြစ်ပါသည်၊

၃။ ကျန်းမာရေးစောင့်ရှောက်မှုနှင့် ပဏာမကုသမှု လုပ်ငန်းဆောင်ရွက်နိုင်ရန်အတွက် ကျန်းမာရေး ဆေးပေးခန်းကိုလည်း စီစဥ် ထားရှိမည်ဖြစ်ပါသည်၊

၄။ ပတ်ဝန်းကျင်စိမ်းလန်းသာယာရေးအတွက် ပန်းခြံများ ၊ သစ်ပင်များ စိုက်ပျိုး၍ ပတ်ဝန်းကျင်သာယာမှုရှိစေရန် ဆောင်ရွက် ပေးမည်ဖြစ်ပါသည်၊

၅။ ဝန်ထမ်းများအတွက် ထမင်းစားဆောင်အား တည်ဆောက်ပြီး ထမင်းစားပွဲ ၊ ထိုင်ခုံ ၊ ဆပ်ပြာ ၊ သန့်ရှင်းရေးသုံးပစ္စည်းများ ဖြည့်ဆည်းပေးမည်ဖြစ်ပါသည်၊

၆။ ရေချိုးခန်းနှင့်အိမ်သာကို အမျိုးသား ၊ အမျိုးသမီး ခွဲခြားလျှက် အလုံအလောက် တည်ဆောက်ထားရှိမည်ဖြစ်ပါသည်၊

၇။ ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် သန့်စင်ခန်းများ ၊ အမှိုက်ပုံးများထားရှိခြင်း ၊ စက်ရုံဝန်းကျင် သန့်ရှင်းမှုရှိစေရန် လုပ်ငန်း ဆောင်ရွက်ပေးခြင်း ၊ ရေနုတ်မြောင်းများကို တည်ဆောက်၍ သန့်ရှင်းစင်ကြယ်မှုရှိစေရန် အမြဲဆောင်ရွက်သွားမည်ဖြစ်ပါသည်၊

၈။ ပတ်ဝန်းကျင် ဆူညံခြင်းမရှိစေရန်နှင့် အလင်းရောင် ၊ လေဝင်လေထွက်ကောင်းစေရန် ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

၉။ စက်သုံးဆီ တင်/ချ ဆိပ်ခံတံတားနှင့် စက်သုံးဆီသိုလှောင်ကန်များ၏ လုံခြုံရေးနှင့် ဝန်ထမ်းများ၏ လုံခြုံရေးအတွက် လုံခြုံရေးဂိတ်များထားရှိမည်ဖြစ်ပါသည်။မီးဘေးအန္တရာယ်ကာကွယ်ရေးအစီအစဉ်များကိုလည်း စနစ်တကျ စီစဉ်ဆောင်ရွက်ထားမည်ဖြစ်ပါသည်။ဝန်ထမ်းများအားလည်း ဥပဒေနှင့်အညီ လုပ်ကိုင်ဆောင်ရွက်စေပြီး ၊ တည်ဆဲဥပဒေများကိုလည်း လိုက်နာဆောင်ရွက်စေမည်ဖြစ်ပါသည်။

လေးစားစွာဖြင့်

(အောင်ဇော်နိုင်)

Managing Director

Shwe Taung Energy Services Co.,Ltd.

အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာစုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့စည်းမျဉ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲ၍ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏ အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့် အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| ၁ | ဦး အောင်ဇော်နိုင် အမှတ်(၂၅)၊ ဝင်ဆာလမ်း၊ ဝင်ဆာဂါး ဒင်းဆိမ်ရာ၊ စမ်းချောင်းမြို့နယ်၊ ရန်ကုန်မြို့။ (ကုန်သည်) | မြန်မာ ၁၂/လမတ (နိုင်) ၀၂၅၇၅၈ | ၄၉၀ | |
| ၂ | ဦးဝင်းငွေ (ခ) စောဗိုလ်ထွန်း အမှတ်(၅)၊ တရုတ်ဘုရား ကျောင်းလမ်း၊ တာမွေ လေး ရပ်ကွက်၊ တာမွေမြို့နယ်၊ ရန်ကုန်မြို့။ (ကုန်သည်) | မြန်မာ ၁၂/တမန (နိုင်) ၀၇၀၄၀၆ | ၁၀ | |

မြို့။ နေ့စွဲ၊ ၂၀၁၂ ခုနှစ်၊ မေ လ ရက်။

အထက်ပါလက်မှတ်ရှင်များသည် ကျွန်ုပ်တို့၏ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

DAW KHIN HLA TIN (LL.B, )
Consultant & Estate
No.85, Ground Floor, 37th Street
Kyauktada Township, Yangon.

**နို့တစ်စာ**

၂၁။ ဤကုမ္ပဏီသည် မည်သည့်အစုရှင်ထံသို့မဆို နို့တစ်စာကို လက်ရောက်ပေးအပ်ခြင်း သို့မဟုတ် နို့တစ်စာပါသော စာကိုစာတိုက်ခ ကြိုတင်ပေးထား၍ ၎င်းအစုရှင်ထံ မှတ်ပုံတင်လိပ်စာအတိုင်း စာတိုက်မှတဆင့် လိပ်မူပေးပို့ခြင်းအားဖြင့် ပေးပို့နိုင်သည်။

**တံဆိပ်**

၂၂။ ဒါရိုက်တာများသည် တံဆိပ်ကို လုံခြုံစွာထိန်းသိမ်းထားရန်အတွက် စီမံဆောင်ရွက်ရမည်။ ထိုတံဆိပ်ကို ဒါရိုက်တာများက ကြိုတင်ပေးအပ်ထားသည့် ခွင့်ပြုချက်ဖြင့်မှတစ်ပါး၊ ထို့အပြင် အနည်းဆုံး ဒါရိုက်တာတစ်ဦး ရှေ့မှောက်တွင်မှတစ်ပါး မည်သည့်အခါမျှ မသုံးရ။ တံဆိပ်ရိုက်နှိပ်ထားသည့် စာရွက် စာတမ်းတိုင်းတွင် ထိုဒါရိုက်တာက လက်မှတ်ရေးထိုးရမည်။

**လျော်ကြေး**

၂၃။ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၈၆ (ဂ) တွင် ဖော်ပြပါရှိသည့် ပြဋ္ဌာန်းချက်များ၊ လက်ရှိ တရားဝင် တည်ဆဲဥပဒေပြဋ္ဌာန်းချက်များနှင့် မဆန့်ကျင်စေဘဲ ကုမ္ပဏီ၏ ဒါရိုက်တာ၊ စာရင်းစစ်၊ အတွင်းရေးမှူးသို့မဟုတ် အခြားအရာရှိတစ်ဦးဦးမှာ မိမိ၏တာဝန်ဝတ္တရားများကို ဆောင်ရွက်ရာ၌ ဖြစ်စေ ထိုတာဝန်ဝတ္တရားများနှင့် စပ်လျဉ်း၍ဖြစ်စေ ကျခံခဲ့ရသည့်စရိတ်များ၊ တောင်းခံငွေများ၊ ဆုံးရှုံးငွေများ၊ ကုန်ကျငွေများနှင့် ကြွေးမြီးတာဝန်များ အတွက် ကုမ္ပဏီထံမှ လျော်ကြေးရထိုက်ခွင့် ရှိစေရမည်။

**ဖျက်သိမ်းခြင်း**

၂၄။ ကုမ္ပဏီ၏ အထွေထွေအစည်းအဝေး ဆုံးဖြတ်ချက်ဖြင့် ကုမ္ပဏီအား ဖျက်သိမ်းနိုင်သည်။ ယင်းသို့ ဖျက်သိမ်းရာတွင် မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေများနှင့် ယင်းဥပဒေများအား အခါအားလျော်စွာ ပြင်ဆင် ပြောင်းလဲထားသည့် တရားဥပဒေများတွင် ပါဝင်သည့် စည်းမျဉ်းများအတိုင်း လိုက်နာပြုလုပ်ရမည်။



## အထွေထွေအစည်းအဝေးကြီးများ

၁၅။ ကုမ္ပဏီကိုဥပဒေအရဖွဲ့စည်းတည်ထောင်ပြီးသည့်နေ့မှတစ်ဆယ့်ရှစ်လအတွင်း အထွေထွေ သင်းလုံးကျွတ် အစည်းအဝေး ကြီးကို ကျင်းပရမည်။ ထို့နောက်ဒါရိုက်တာအဖွဲ့က သတ်မှတ်ပေးသည့် အချိန်နှင့်နေရာ များတွင်ပြက္ခဒိန်နှစ်တစ်နှစ်လျှင်အနည်းဆုံးတစ်ကြိမ်(နောက်ဆုံးကျင်းပသည့် အထွေထွေအစည်း အဝေးကြီး နှင့် တစ်ဆယ့်ငါးလထက် မပိုသည့်အချိန်၌) ကျင်းပရမည်။ သင်းလုံးကျွတ် အစည်းအဝေးစတင်၍ လုပ်ငန်းအတွက် ဆွေးနွေးချိန်တွင် အစည်းအဝေးအထမြောက်ရန် သတ်မှတ်သည့် အစုရှင်အရေအတွက် မတက်ရောက်သော မည်သည့်သင်းလုံးကျွတ် အစည်းအဝေးတွင်မဆို လုပ်ငန်းနှင့်ပတ်သက်၍ ဆုံးဖြတ် ဆောင်ရွက်ခြင်းမပြုရ။ ဤတွင်အခြားနည်းသတ်မှတ်ပြဋ္ဌာန်းခြင်းမရှိလျှင် ထုတ်ဝေထားသည့် မ,တည် ရင်းနှီးငွေ အစုရှယ်ယာများ၏ ငါးဆယ်ရာခိုင်နှုန်း ထက်မနည်းပိုင်ဆိုင်ကြသည့် (နှစ်ဦးထက်မနည်းသော) အစုရှင်များ ကိုယ်တိုင်တက်ရောက်လျှင် လုပ်ငန်းကိစ္စအားလုံးဆောင်ရွက်ရန်အတွက် အစည်းအဝေး အထမြောက် သည့်ဦးရေ ဖြစ်သည်။ အကယ်၍ ကုမ္ပဏီတွင် အစုရှင်အရေအတွက် နှစ်ဦးတည်းသာ ရှိသည့်ကိစ္စတွင်မူ ထိုနှစ်ဦးတည်းသည်ပင်လျှင် အစည်းအဝေး အထမြောက်ရန် သတ်မှတ်သည့်အရေအတွက် ဖြစ်စေရမည်။

## အမြတ်ဝေစုများ

၁၆။ သင်းလုံးကျွတ် အစည်းအဝေးတွင် ဤကုမ္ပဏီ၏အစုရှင်များအားခွဲဝေပေးမည့် အမြတ်ဝေစုကို ကြေငြာရမည်။ သို့ရာတွင် အမြတ်ဝေစုသည် ဒါရိုက်တာများက ထောက်ခံသော ငွေပမာဏထက် မကျော်လွန်စေရ။ သက်ဆိုင်ရာနှစ်၏ အမြတ်ပမာဏ သို့မဟုတ် အခြားမခွဲဝေရသေးသည့် အမြတ်ပမာဏမှအပ အမြတ်ဝေစုကို ခွဲဝေမပေးရ။

## ရုံးဝန်ထမ်းများ

၁၇။ ကုမ္ပဏီသည် လုပ်ငန်းရုံးတစ်ခုကို ဖွင့်လှစ်၍ဆောင်ရွက်မည်ဖြစ်ပြီး အရည်အချင်းပြည့်မီသူ ပုဂ္ဂိုလ်တစ်ဦးအား အထွေထွေမန်နေဂျာအဖြစ် ခန့်အပ်ရန်နှင့် အခြားအရည်အချင်းပြည့်မီသူများ အား ရုံးဝန်ထမ်းများအဖြစ်ခန့်အပ်မည်ဖြစ်သည်။ လစာ၊ ခရီးသွားလာစရိတ်နှင့် အခြားအသုံးစရိတ်များ ကဲ့သို့သော ဉာဏ်ပူဇော်ခများနှင့် အခကြေးငွေများကို ဒါရိုက်တာအဖွဲ့က သတ်မှတ်မည်ဖြစ်ပြီး ၎င်း သတ်မှတ်ချက်များကို သင်းလုံးကျွတ်အစည်းအဝေးက အတည်ပြုရမည်။ အထွေထွေမန်နေဂျာသည် လုပ်ငန်းရုံး၏ ထိရောက်စွာလုပ်ငန်း လည်ပတ်မှုအားလုံးအတွက် တာဝန်ရှိစေရမည်ဖြစ်ပြီး မန်နေးဂျင်း ဒါရိုက်တာအားတာဝန်ခံ၍ ဆောင်ရွက်ရမည်။

## ငွေစာရင်းများ

၁၈။ ဒါရိုက်တာများသည် သင့်လျော်သည့် ငွေစာရင်းစာအုပ်များကို အောက်ဖော်ပြပါသတ်မှတ်ချက်များ နှင့်အညီ ထားသိုထိန်းသိမ်းဆောင်ရွက်ရမည်။

(၁) ကုမ္ပဏီ၏ရငွေ၊သုံးငွေများ၏ပမာဏနှင့်၎င်းရငွေ၊သုံးငွေများဖြစ်ပေါ်ခြင်းနှင့်စပ်လျဉ်းသည့်အကြောင်းကိစ္စများ။

(၂) ကုမ္ပဏီ၏ ကုန်ပစ္စည်းများ ရောင်းချခြင်းနှင့် ဝယ်ယူခြင်းများ။

(၃) ဤကုမ္ပဏီ၏ ရရန်ပိုင်ခွင့်နှင့် ပေးရန်တာဝန်များ။

၁၉ ။ ငွေစာရင်းစာအုပ်အားလုံးကို ဤကုမ္ပဏီ၏ မှတ်ပုံတင်ထားသော လုပ်ငန်းရုံးများသို့မဟုတ် ဒါရိုက်တာ များက သင့်လျော်သည်ဟု ထင်မြင်ယူဆသော အခြားနေရာများတွင် သိမ်းဆည်းထားရမည်ဖြစ်ပြီး၊ ရုံးချိန်အတွင်း၌ ဒါရိုက်တာများက စစ်ဆေးနိုင်ရန် ပြသထားရမည်။

## စာရင်းစစ်

၂၀။ စာရင်းစစ်များကို ခန့်အပ်ထားရမည်။ ၎င်းစာရင်းစစ်များ၏ တာဝန်သည် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ သို့မဟုတ် အခါအားလျော်စွာ ပြင်ဆင်သတ်မှတ်သည့် စည်းမျဉ်း စည်းကမ်းများ နှင့် လိုက်လျောညီထွေဖြစ်ရမည်။

(၈) ဤကုမ္ပဏီက ပိုင်ဆိုင်သော သို့မဟုတ် ပိုင်ဆိုင်ခွင့်ရှိသော သို့မဟုတ် အခြားအကြောင်းများကြောင့်ဖြစ်သော မည်သည့်ပစ္စည်းကိုမဆို ကုမ္ပဏီ၏ ကိုယ်စားလက်ခံထိန်းသိမ်းထားရန်အတွက် မည်သည့်ပုဂ္ဂိုလ် သို့မဟုတ် ပုဂ္ဂိုလ်များကိုမဆိုခန့်ထားရန်နှင့် အဆိုပါယုံမှတ် အပ်နှံခြင်းများနှင့် ပတ်သက်၍လိုအပ်သော စာချုပ်စာတမ်းများ ချုပ်ဆို ပြုလုပ်ရန်။

(၉) ဤကုမ္ပဏီ၏ အရေးအရာများနှင့်စပ်လျဉ်း၍ ဤကုမ္ပဏီကပြုလုပ်သော သို့မဟုတ် ဤကုမ္ပဏီအပေါ် သို့မဟုတ် ဤကုမ္ပဏီ၏ အရာရှိများအပေါ် ပြုလုပ်သော တရားဥပဒေအရ စွဲဆို ဆောင်ရွက်မှုများကို တရားစွဲဆို၊ အရေးယူ၊ ခုခံကာကွယ်ရန် သို့မဟုတ် ခွင့်လွှတ်ရန်၊ ထို့အပြင် ဤကုမ္ပဏီက ရရန်ရှိသော ကြွေးမြီများနှင့် ဤကုမ္ပဏီ အပေါ် တောင်းခံသော ကြွေးမြီများနှင့် ပတ်သက်၍ ပေးဆပ်ရန် အချိန်ကာလ ရွှေ့ဆိုင်းခွင့်ပြုခြင်း သို့မဟုတ် နှစ်ဦးနှစ်ဖက်သဘောတူ ကျေအေးခြင်းများ ပြုလုပ်ရန်။

(၁၀) ဤကုမ္ပဏီက ပေးရန်ရှိသော သို့မဟုတ်ရရန်ရှိသော ငွေတောင်းခံခြင်းများကို ဖြန်ဖြေရေး ခုံသမာဓိထံသို့ ဖြေရှင်းရန်အတွက်အပ်နှံရန်အပြင်ဖြန်ဖြေရေး ခုံသမာဓိ၏ဆုံးဖြတ်ချက်အတိုင်းလိုက်နာဆောင်ရွက်ရန်။

(၁၁) ဤကုမ္ပဏီကရရန်ရှိသောတောင်းဆိုချက်၊ တောင်းခံချက်များနှင့် ကုမ္ပဏီသို့ပေးရန်ရှိသော ငွေကြေး များအတွက် ပြေစာများ ပြုလုပ် ထုတ်ပေးခြင်း၊ လျှော်ပစ်ခြင်းနှင့် အခြားသောနည်းဖြင့် စွန့်လွှတ်ခြင်းများကို ပြုလုပ်ရန်။

(၁၂) လူမွဲစာရင်းခံရခြင်း၊ ကြွေးမြီးမဆပ်နိုင်ခြင်း ကိစ္စများနှင့် ပတ်သက်၍ကုမ္ပဏီ၏ကိုယ်စားဆောင်ရွက်ရန်။

(၁၃) ငွေလွှဲစာတမ်းများ၊ ချက်လက်မှတ်များ၊ ဝန်ခံကတိစာချုပ်များ၊ ထပ်ဆင့်လက်မှတ်ရေးထိုးခြင်းများ၊လျှော်ပစ်ခြင်းများ၊ ကန်ထရိုက်စာချုပ်များနှင့် စာရွက်စာတမ်းများကို ကုမ္ပဏီ၏ကိုယ်စား မည်သူက လက်မှတ်ရေးထိုးခွင့်ရှိသည်ကို စိစစ်သတ်မှတ်ရန်။

(၁၄) ဒါရိုက်တာများက သင့်လျော်သည်ဟုယူဆပါက သင့်လျော်လျှောက်ပတ်သော နည်းလမ်းများဖြင့်လတ်တလော အသုံးပြုရန် မလိုသေးသော ကုမ္ပဏီပိုင်ငွေများကို အာမခံ ပစ္စည်းပါသည်ဖြစ်စေ၊ မပါသည်ဖြစ်စေရင်းနှီးမြှုပ်နှံထားရန်နှင့် စီမံခန့်ခွဲထားရန်၊ ထို့အပြင် အချိန်ကာလအားလျော်စွာ မြှုပ်နှံထားသောငွေကို ပြန်လည်ရယူရန်နှင့် ပြင်ဆင်ပြောင်းလွှဲရန်။

(၁၅) ဤကုမ္ပဏီ၏ အကျိုးအတွက် ငွေကြေးစိုက်ထုတ် ကုန်ကျခံထားသော ဒါရိုက်တာသို့မဟုတ် အခြား ပုဂ္ဂိုလ်များက ကုမ္ပဏီ၏ (လက်ရှိနှင့် နောင်တွင်ရှိမည့်) ပစ္စည်းများကို ဤကုမ္ပဏီ၏ အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ ကိုယ်စားဖြစ်စေ ပေါင်နှံခြင်းကို သင့်လျော်သည်ဟုယူဆပါက ဆောင်ရွက်ခွင့်ပြုရန် အဆိုပါပေါင်နှံခြင်းဆိုရာ၌ ရောင်းချနိုင်သည့် အာဏာနှင့်အခြားသော သဘောတူညီထားသည့် တရားဝင်သော တူညီချက်များနှင့် ဥပဒေပါပြဋ္ဌာန်းချက်များပါ ပါဝင်သည်။

(၁၆) ဤကုမ္ပဏီကခန့်အပ်ထားသော မည်သည့်အရာရှိသို့မဟုတ် ပုဂ္ဂိုလ်ကိုမဆို အတိအကျ ဆောင်ရွက်ခဲ့သည့် လုပ်ငန်း သို့မဟုတ် ဆောင်ရွက်မှုတစ်ခုအတွက် ရရှိသောအမြတ်ငွေမှ ကော်မရှင်ပေးခြင်း သို့မဟုတ် ကုမ္ပဏီ၏ အထွေထွေ အမြတ်အစွန်းမှ ခွဲဝေပေးခြင်းများပြုလုပ်ရန်နှင့် အဆိုပါကော်မရှင်များ၊ အမြတ် များခွဲဝေပေးခြင်း စသည်တို့ကို ဤကုမ္ပဏီ၏ လုပ်ငန်းကုန်ကျစရိတ် တစ်စိတ်တစ်ဒေသဖြစ် သတ်မှတ်ရန်။

(၁၇) ဤကုမ္ပဏီ၏လုပ်ငန်းများ အရာရှိများ ဝန်ထမ်းများနှင့် အစုရှင်များအတွက် ထုတ်ပြန်ထားသော စည်းမျဉ်းများ၊ စည်းကမ်းချက်များ၊ စည်းကမ်းဥပဒေများကို အခါအားလျော်စွာ သတ်မှတ်ခြင်း၊ ပြင်ဆင်ခြင်း၊ ဖြည့်စွက်ခြင်း များ ဆောင်ရွက်ရန်။

(၁၈) ဤကုမ္ပဏီ၏ လုပ်ငန်းအတွက် ဤကုမ္ပဏီ၏အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ကိုယ်စားဖြစ်စေ လိုအပ် သည်ဟု ယူဆလျှင် ညှိနှိုင်းဆွေးနွေးခြင်းနှင့် ကန်ထရိုက်စာချုပ် ချုပ်ဆိုခြင်းများကို ပြုလုပ်ရန်၊ ဖျက်သိမ်းရန်နှင့် ပြင်ဆင်ရန်အပြင် အဆိုပါဆောင်ရွက်ချက် စာချုပ်များနှင့် ကိစ္စရပ်များကို လည်းကောင်း၊ ၎င်းတို့နှင့် စပ်လျဉ်းသော ကိစ္စရပ်များကို လည်းကောင်း လုပ်ကိုင်ဆောင်ရွက်ရန်။

(၁၉) ဒါရိုက်တာများက သင့်လျော်လျှောက်ပတ်သည်ဟု ယူဆပါကကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန်အတွက် မည်သည့် ပြည်တွင်းပြည်ပ ပုဂ္ဂိုလ်၊ စီးပွားရေးအဖွဲ့အစည်း၊ ကုမ္ပဏီ သို့မဟုတ် ဘဏ် သို့မဟုတ် ငွေကြေးအဖွဲ့အစည်းထံမှ မဆို ငွေချေးယူရန်။

၁၃။ ဒါရိုက်တာအားလုံးက လက်မှတ်ရေးထိုးထားသော ရေးသားထားသည့် ဆုံးဖြတ်ချက်တစ်ရပ်သည်နည်းလမ်းတကျ ခေါ်ယူကျင်းပသော အစည်းအဝေးက အတည်ပြုသည့် ဆုံးဖြတ်ချက်ကဲ့သို့ပင် ကိစ္စအားလုံး အတွက် အကျိုးသက်ရောက်စေရမည်။

## ဒါရိုက်တာများ၏ လုပ်ပိုင်ခွင့်နှင့်တာဝန်များ

၁၄။ မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေ နောက်ဆက်တွဲဇယားပုံစံ(က)ပါ စည်းမျဉ်းအပိုဒ် ၇၁ တွင် ပေးအပ်ထားသော အထွေထွေအာဏာများကိုမထိခိုက်စေဘဲဒါရိုက်တာများသည်အောက်ဖော်ပြပါ အာဏာများရှိရမည်ဟု အတိအလင်း ထုတ်ဖော်ကြေညာသည်။ အာဏာဆိုသည်မှာ-

(၁) ဒါရိုက်တာများက သင့်လျော်သည်ဟုယူဆသော တန်ဖိုးနှင့်စည်းကမ်းများ၊ အခြေအနေများ သတ်မှတ်၍ ကုမ္ပဏီကရယူရန် အာဏာရှိသည့်မည်သည့်ပစ္စည်း၊ အခွင့်အရေးများ ၊ အခွင့်အလမ်းများကို မဆိုဝယ်ယူရန် သို့မဟုတ် အခြားနည်းလမ်းများဖြင့် ရယူပိုင်ဆိုင်ရန်အပြင် ကုမ္ပဏီကပိုင်ဆိုင်ခွင့်ရှိသော မည်သည့်ပစ္စည်း အခွင့်အရေးများ၊ အခွင့်အလမ်းများကိုမဆို သင့်တော်သောစည်းကမ်းချက်များ သတ်မှတ်၍ရောင်းချခြင်း၊ အငှားချခြင်း၊ စွန့်လွှတ်ခြင်း၊ သို့မဟုတ် အခြားနည်းလမ်းများဖြင့် ဆောင်ရွက်ခြင်းတို့ကို ပြုလုပ်ရန်။

(၂) သင့်လျော်သော စည်းကမ်းသတ်မှတ်ချက်များဖြင့် ငွေကြေးများကို ချေးငှားရန် သို့မဟုတ်အဆိုပါ ချေးငှားသောငွေကြေးများကို ပြန်လည်ပေးဆပ်ရန်အတွက် အာမခံများထားရှိရန်အပြင်၊ အထူးသဖြင့် ဤကုမ္ပဏီ၏ ဒီဘင်ချာများ၊ ဒီဘင်ချာစတော့(ခ်)များ၊ ခေါ်ယူခြင်းမပြုရသေးသော ရင်းနှီးငွေများအပါ အဝင်ယခုလက်ရှိနှင့် နောင်ရှိမည့်ပစ္စည်းများအားလုံး သို့မဟုတ် တစ်စိတ်တဒေသကို အပေါင်ပြု၍ ထုတ်ဝေရန်။

(၃) ဤကုမ္ပဏီက ရယူထားသော အခွင့်အရေးများ သို့မဟုတ် ဝန်ဆောင်မှုများအတွက် အားလုံး သို့မဟုတ်တစ်စိတ်တဒေသကို ငွေကြေးအားဖြင့် ပေးချေရန်၊ သို့မဟုတ် အစုရှယ်ယာများ၊ ငွေချေးစာချုပ်များ၊ ဒီဘင်ချာများ သို့မဟုတ် ဤကုမ္ပဏီ၏အခြားသော အာမခံ စာချုပ်များကို ထုတ်ပေးရန်၊ ထို့အပြင် အဆိုပါ အစုရှယ်ယာများ ထုတ်ပေးရာ၌ ငွေအပြည့်ပေးသွင်းပြီးသော အစုရှယ်ယာအနေဖြင့် သော်လည်းကောင်း၊ တစ်စိတ်တဒေသ ပေးသွင်းပြီးသော အစုရှယ်ယာများအနေဖြင့် သော်လည်းကောင်း၊ သဘောတူညီသကဲ့သို့ ထုတ်ဝေပေးရန်နှင့် အဆိုပါ ငွေချေးစာချုပ်များ၊ ဒီဘင်ချာများ သို့မဟုတ် ကုမ္ပဏီ၏ အခြားသော အာမခံ စာချုပ်များဖြင့် ထုတ်ဝေပေးရာ၌ခေါ်ဆိုခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းအားလုံးသို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ ဖြစ်စေ၊ ထိုကဲ့သို့ မဟုတ်ဘဲဖြစ်စေ ထုတ်ပေးရန်။

(၄) ဤကုမ္ပဏီ နှင့် ပြုလုပ်ထားသော ကန်ထရိုက်စာချုပ်များ၊ တာဝန်ယူထားသည့် လုပ်ငန်းများ ပြီးစီးအောင် ဆောင်ရွက်စေခြင်းအလို့ငှာ ခေါ်ယူခြင်းမပြုရသေးသော ရင်းနှီးငွေများအပါအဝင် ဤကုမ္ပဏီ၏ပစ္စည်းရပ်များ အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ပေါင်နှံ၍သော်လည်းကောင်း၊ အပေါင်ပြု၍ သော်လည်းကောင်း သို့မဟုတ် အစုရှယ်ယာများအတွက် ငွေများတောင်းခံခေါ်ယူ၍ သော်လည်းကောင်း၊ ခွင့်ပြုရန် သို့မဟုတ် သင့်လျော်သည့်အတိုင်း ဆောင်ရွက်ရန်။

(၅) မန်နေဂျာများ၊ အတွင်းရေးမှူးများ၊ အရာရှိများ၊ စာရေးများ၊ ကိုယ်စားလှယ်များနှင့်ဝန်ထမ်းများကို အမြဲတမ်း ယာယီ သို့မဟုတ် အထူးကိစ္စရပ်များအတွက် ခန့်ထားခြင်း၊ ရပ်စဲခြင်း၊ ဆိုင်းငံ့ခြင်းများအတွက် လည်းကောင်း၊ အဆိုပါ ပုဂ္ဂိုလ်တို့၏တာဝန်များ၊ အာဏာများ၊ လစာငွေများ၊ အခြားငွေကြေးများကို သတ်မှတ် ရာ၌ လည်းကောင်း၊ အာမခံပစ္စည်းများ တောင်းခံရာ၌ လည်းကောင်း သင့်လျော်သလို ဆောင်ရွက်ရန်၊ ထို့အပြင် အဆိုပါကိစ္စများအတွက် ကုမ္ပဏီ၏ မည်သည့်အရာရှိကိုမဆို ကိစ္စရပ် အားလုံးကိုဖြစ်စေ၊ တစ်စိတ်တစ်ဒေသ ကိုဖြစ်စေ ဒါရိုက်တာများ၏ ကိုယ်စားဆောင်ရွက် နိုင်ရေးအတွက် တာဝန်လွှဲအပ်ရန်။

(၆) ဤကုမ္ပဏီ၏ ဒါရိုက်တာတစ်ဦးအား ဒါရိုက်တာရာထူးနှင့် တွဲဖက်၍မန်နေဂျင်းဒါရိုက်တာ၊ အထွေထွေ မန်နေဂျာ၊ အတွင်းရေးမှူး သို့မဟုတ် ဌာနခွဲမန်နေဂျာအဖြစ်ခန့်ထားရန်။

(၇) မည်သည့် အစုရှင်ထံမှမဆို ၎င်းတို့၏ အစုရှယ်ယာများအားလုံးကိုဖြစ်စေ၊ အချို့အဝက်ကိုဖြစ်စေစွန့်လွှတ်ခြင်း အား သဘောတူညီသော စည်းကမ်းချက်များဖြင့် လက်ခံရန်။

၅။ အစုရှယ်ယာလက်မှတ်များကို အထွေထွေမန်နေဂျာ သို့မဟုတ် ဒါရိုက်တာအဖွဲ့က သတ်မှတ်သည့် အခြားပုဂ္ဂိုလ်များကလက်မှတ်ရေးထိုး၍ ကုမ္ပဏီ၏တံဆိပ်ရိုက်နှိပ်ထုတ်ပေးရမည်။အစုရှယ်ယာလက်မှတ်သည် ပုံပန်းပျက်ခြင်း၊ ပျောက်ဆုံးခြင်း သို့မဟုတ် ပျက်စီးခြင်း ဖြစ်ပါက အဖိုးအခဖြင့် ပြန်လည်အသစ်ပြုလုပ်ပေးမှုကို သော်လည်းကောင်း၊ဒါရိုက်တာများက သင့်လျော်သည်ဟုယူဆသော အခြားသက်သေခံ အထောက်အထားတစ်စုံတစ်ရာကို တင်ပြစေ၍သော်လည်းကောင်း ထုတ်ပေးနိုင်သည်။ ကွယ်လွန်သွားသော အစုရှယ်ယာရှင်တစ်ဦး၏ တရားဝင်ကိုယ်စားလှယ်ကို ဒါရိုက်တာများက အသိအမှတ် ပြုပေးရမည်ဖြစ်သည်။

၆။ ဒါရိုက်တာများသည် အစုရှင်များက ၎င်းတို့၏ အစုရှယ်ယာများအတွက် မပေးသွင်းရသေးသောငွေများကိုအခါအားလျော်စွာ တောင်းဆိုနိုင်သည်။ အစုရှင်တိုင်းကလည်း ၎င်းတို့ထံတောင်းဆိုသည့် အကြိမ်တိုင်း အတွက် ဒါရိုက်တာများကသတ်မှတ်သည့် ပုဂ္ဂိုလ်များထံ သတ်မှတ်သည့်အချိန်နှင့် နေရာတွင် ပေးသွင်းစေရန်တာဝန်ရှိစေရမည်။ဆင့်ခေါ်မှုတစ်ခုအတွက်အရစ်ကျပေးသွင်းစေခြင်း၊သို့မဟုတ်ပယ်ဖျက်ခြင်းသို့မဟုတ်ရွှေ့ဆိုင်းခြင်းတို့ကိုဒါရိုက်တာများက သတ်မှတ်နိုင်သည်။

## ဒါရိုက်တာများ

၇။ သင်းလုံးကျွတ် အစည်းအဝေးက တစ်စုံတစ်ရာ သတ်မှတ်ပြဋ္ဌာန်းမှု မပြုလုပ်သမျှ ဒါရိုက်တာများ၏ အရေအတွက်သည် ( ၂ )ဦး ထက်မနည်း၊ ( ၁၅ )ဦးထက်မများစေရ။
ပထမဒါရိုက်တာများသည် -
( ၁ ) **ဦး အောင် ဇော် နိုင်**
( ၂ ) **ဦး ဝင်း ရွှေ ( ခ ) စောသွိထွမ်**
( ၃ )
( ၄ )
( ၅ ) တို့ဖြစ်ကြပါသည်။

၈။ ဒါရိုက်တာများသည် ၎င်းတို့အနက်မှ တစ်ဦးကို မန်နေဂျင်းဒါရိုက်တာအဖြစ် အချိန်အခါအလိုက် သင့်လျော်သောသတ်မှတ်ချက်များ၊ဥာဏ်ပူဇော်ခများဖြင့်ခန့်ထားရမည်ဖြစ်ပြီးအခါအားလျော်စွာ ဒါရိုက်တာအဖွဲ့က ပေးအပ်သော အာဏာများအားလုံးကို ၎င်းက အသုံးပြုနိုင်သည်။

၉။ ဒါရိုက်တာတစ်ဦးဖြစ်မြောက်ရန်လိုအပ်သော အရည်အချင်းသည် ကုမ္ပဏီ၏အစုရှယ်ယာအနည်းဆုံး ( — )စုကို ပိုင်ဆိုင်ခြင်းဖြစ်၍ ၎င်းသည် မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေပုဒ်မ ၈၅ ပါ ပြဋ္ဌာန်းချက်များကို လိုက်နာရန် တာဝန်ရှိသည်။

၁၀။ အစုရှယ်ယာများ လွှဲပြောင်းရန် တင်ပြချက်ကို မည်သည့် အကြောင်းပြချက်မျှ မပေးဘဲ ဒါရိုက်တာအဖွဲ့သည် ၎င်းတို့၏ပြည့်စုံ၍ ချုပ်ချယ်ခြင်းကင်းသော ဆင်ခြင်တွက်ဆမှုဖြင့် မှတ်ပုံတင်ရန် ငြင်းဆိုနိုင်သည်။

## ဒါရိုက်တာများ၏ ဆောင်ရွက်ချက်များ

၁၁။ ဒါရိုက်တာများသည် ၎င်းတို့သင့်လျော်သည် ထင်မြင်သည့်အတိုင်း လုပ်ငန်းဆောင်ရွက်ရန် တွေ့ဆုံဆွေးနွေးခြင်း၊ အစည်းအဝေးရွှေ့ဆိုင်းခြင်း၊ အချိန်မှန်စည်းဝေးခြင်း၊ အစည်းအဝေးအထမြောက်ရန် အနည်းဆုံး ဒါရိုက်တာဦးရေသတ်မှတ်ခြင်းတို့ကို ဆောင်ရွက်နိုင်သည်။ ယင်းသို့ မသတ်မှတ်ပါကဒါရိုက်တာနှစ်ဦးတက်ရောက်လျှင် အစည်းအဝေးထမြောက်ရမည်။ အစည်းအဝေးတွင် မည်သည့် ပြဿနာမဆိုပေါ်ပေါက်ပါက မန်နေဂျင်းဒါရိုက်တာ၏အဆုံးအဖြတ်သည် အတည်ဖြစ်ရမည်။ မည်သည့် ကိစ္စများကိုမဆို မဲခွဲဆုံးဖြတ်ရာတွင် မဲအရေအတွက်တူနေပါက သဘာပတိသည် ဒုတိယမဲ သို့မဟုတ် အနိုင်မဲကို ပေးနိုင်သည်။

၁၂။ ဒါရိုက်တာများ၏ အစည်းအဝေးကို မည်သည့်ဒါရိုက်တာကမဆို အချိန်မရွေး ခေါ်နိုင်သည်။

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီ

# ရွှေတောင်မွှေး အား၊ဝန်ဆောင်မှု ကုမ္ပဏီ လီမိတက်

၏

## သင်းဖွဲ့စည်းမျဉ်းများ



၁။ ဤသင်းဖွဲ့စည်းမျဉ်းနှင့် လိုက်လျောညီထွေမဖြစ်သည့် စည်းမျဉ်းများမှအပ၊ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ နောက်ဆက်တွဲ ပထမဇယားပုံစံ 'က' ပါ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် သက်ဆိုင်စေရမည်။ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၁၇(၂)တွင် ဖော်ပြပါရှိသည့် မလိုက်နာ မနေရ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် အစဉ်သဖြင့် သက်ဆိုင်စေရမည်။

## အများနှင့် မသက်ဆိုင်သော ကုမ္ပဏီ

၂။ ဤကုမ္ပဏီသည်အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီဖြစ်၍အောက်ပါသတ်မှတ်ချက်များသည် အကျိုးသက်ရောက်စေရမည်။

(က) ဤကုမ္ပဏီက ခန့်အပ်ထားသော ဝန်ထမ်းများမှအပ၊ ဤကုမ္ပဏီ၏အစုရှင်အရေအတွက်ကိုငါးဆယ် အထိသာကန့်သတ်ထားသည်။

(ခ) ဤကုမ္ပဏီ၏ အစုရှယ်ယာ သို့မဟုတ် ဒီဘင်ချာ သို့မဟုတ် ဒီဘင်ချာစတော့(ခ်) တစ်ခုခုအတွက်ငွေထည့်ဝင်ရန်အများပြည်သူတို့အား ကမ်းလှမ်းခြင်းမပြုလုပ်ရန် တားမြစ်ထားသည်။

## မ,တည် ရင်းနှီးငွေနှင့် အစုရှယ်ယာ

၃။ ကုမ္ပဏီ၏ သတ်မှတ် မ,တည်ငွေရင်းမှာ ကျပ် ၁,၀၀၀,၀၀၀,၀၀၀/-(ကျပ်
သန်း တစ်သိန်း တိတိ) ဖြစ်၍ ငွေကျပ် ၁၀၀၀၀/- /-(ကျပ် -
တစ် သောင်း တိတိ) တန် အစုရှယ်ယာပေါင်း ( ၁၀၀၀၀၀၀ ) ခွဲထားပါသည်။
ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများ နှင့် လက်ရှိတရားဝင် တည်ဆဲဖြစ်နေသောတရားဥပဒေ ပြဋ္ဌာန်းချက်များနှင့်အညီ အထွေထွေသင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့်ပြင်ဆင်နိုင်ခွင့် အာဏာရှိစေရမည်။

၄။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေပါ ပြဋ္ဌာန်းချက်များကို မထိခိုက်စေလျက် အစုရှယ်ယာများသည် ဒါရိုက်တာများ၏ ကြီးကြပ်ကွပ်ကဲမှု အောက်တွင် ရှိစေရမည်။ ၎င်းဒါရိုက်တာများသည် သင့်လျော်သော ပုဂ္ဂိုလ်များအား သတ်မှတ်ချက် အခြေအနေ တစ်စုံတစ်ရာဖြင့် အစုရှယ်ယာများကို ခွဲဝေချထားခြင်း သို့မဟုတ် ထုခွဲရောင်းချခြင်းတို့ကို ဆောင်ရွက်နိုင်သည်။

အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာစုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့မှတ်တမ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲ၍ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏<br>အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့်<br>အမျိုးသား<br>မှတ်ပုံတင်အမှတ် | ဝယ်ယူသော<br>အစုရှယ်ယာ<br>ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| ၁ | ဦးဆောင်ဇော်နိုင်<br>အမှတ်(၂၅)၊ ဝင်းဘာလမ်း၊<br>ဝင်ဆာဂါးဒင်းဟိမ်းရာ၊<br>စမ်းချောင်းမြို့နယ်၊<br>ရန်ကုန်မြို့။<br><br>(ကုန်သည်) | မြန်မာ<br>၁၂/လမယ<br>(နိုင်)<br>၀၂၅၇၅၈ | ၄၉၀ | |
| ၂ | ဦးဝင်းမွေး (ခ) ဇော်မိုးထွဋ်<br>အမှတ်(၅)၊ တပွတ်ဘုရားကျောင်း<br>လမ်း၊ တာမွေလေးရပ်ကွက်၊<br>တာမွေမြို့နယ်၊ ရန်ကုန်မြို့။<br><br>(ကုန်သည်) | မြန်မာ<br>၁၂/တမန<br>(နိုင်)<br>၀၇၀၄၀၆ | ၁၀ | |

မြို့။ နေ့စွဲ၊ ၂၀၁၂ ခုနှစ်၊ မေ လ၊ ရက်။

အထက်ပါလက်မှတ်ရှင်များသည် ကျွန်ုပ်၏ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

DAW KHIN HLA [illegible]IN (LL.B,)
Consultant & Estate
No.85, Ground Floor, 37th Street
Kyauktada Township, Yangon.

## ဝန်ဆောင်မှု လုပ်ငန်း ရည်ရွယ်ချက်

၁။ နိုင်ငံတော် အစိုးရက ခွင့်ပြုထားသော အောက်ဖော်ပြပါ ဝန်ဆောင်မှု လုပ်ငန်း များကို မိမိ တစ်ဦးတည်း ဖြစ်စေ၊ မည်သည့် ပြည်တွင်း၊ ပြည်ပပုဂ္ဂိုလ်များနှင့် ဖက်စပ်၍ဖြစ်စေ လုပ်ကိုင်ဆောင်ရွက်ရန် ။

(က) အေဂျင်စီလုပ်ငန်း အမျိုးမျိုး၊ ကျွမ်းကျင်မှုအတိုင်ပင်ခံများ၊ လုပ်ငန်း အတိုင်ပင်ခံ များ၊ အုပ်ချုပ်မှုအတိုင်ပင်ခံများ နှင့်အကြံပေး ဝန်ဆောင်မှုလုပ်ငန်း များ၊

(ခ) ကြော်ငြာ နှင့် ကြော်ငြာကိုယ်စားလှယ်လုပ်ငန်း၊

(ဂ) ဖျော်ဖြေရေး လုပ်ငန်း နှင့်ယင်းနှင့်ပတ်သက်သည့်လုပ်ငန်း များ၊

(ဃ) ဆေး ဝန်ဆောင်မှုလုပ်ငန်း အမျိုးမျိုး၊

(င) သယ်ယူပို့ဆောင် ရေး လုပ်ငန်း ( မီး ရထား နှင့် လေ ကြောင်း မှအပ )

(စ) ပုံနှိပ်ထုတ် ဝေခြင်း လုပ်ငန်း၊

(ဆ) တိုင်းတာ ရေး နှင့်စစ် ဆေး ရေး လုပ်ငန်း၊

(ဇ) စီမံကိန်း သစ်များ၌ဖြစ် မြောက်နိုင်စွမ်း ရှိ-မရှိ လေ့လာခြင်း၊ စီမံကိန်းပုံစံများ ချမှတ်ခြင်း၊ စီမံကိန်း ကုန်ကျစရိတ်ခန့်မှန်း ခြင်း နှင့်တန်ဖိုးတွက် ချက်ခြင်းလုပ်ငန်း များ၊

(ဈ) စာရင်း ရေး သွင်းခြင်း၊ စာရင်း စစ် ဆေး ခြင်း နှင့်ဥပဒေ အကြံ ပေး ဝန်ဆောင် မှုလုပ်ငန်း များ၊

(ည) ယာဉ်နှင့်စက်ကိရိယာအမျိုးမျိုး ကြံ့ခိုင် ရေး ပြုလုပ်ခြင်း၊ မွမ်းမံခြင်း နှင့်ပြင်ဆင် ခြင်း လုပ်ငန်း များ၊

(ဋ) လျှပ်စစ် နှင့်အီလက် ထရောနစ်ကုန်ပစ္စည်း များ တပ်ဆင်ခြင်း၊ ပြုပြင်ခြင်း နှင့် မွမ်းမံတည် ဆောက်ခြင်း လုပ်ငန်း များ၊

(ဌ) သတ္တုသိပ္ပံဆိုင်ရာ ဝန် ဆောင်မှုလုပ်ငန်း၊

(ဍ) စက်သုံး ဆီသို လှောင်ခြင်း နှင့်သယ်ယူပို့ ဆောင်ခြင်း ဝန် ဆောင်မှုလုပ်ငန်း ။

၂။ ကုမ္ပဏီမှ သင့်တော်လျှောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန် အတွက် မည်သည့်ပုဂ္ဂိုလ်၊ စီးပွားရေး အဖွဲ့အစည်း၊ ကုမ္ပဏီ၊ ဘဏ်၊ သို့မဟုတ်၊ ငွေကြေး အဖွဲ့အစည်း ထံ မှမဆို ငွေချေးယူရန်။

ခြွင်းချက်။ ကုမ္ပဏီသည် အထက်ဖော်ပြပါ ရည်ရွယ်ချက်များကို ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံတော် အတွင်း၌ ဖြစ်စေ၊ အခြား မည်သည့် အရပ်ဒေသ၌ဖြစ်စေ၊ အချိန်ကာလအလိုက် တည်မြဲနေသော တရား ဥပဒေ များ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များ က ခွင့် ပြုထားသည့် လုပ်ငန်းများမှအပ အခြား လုပ်ငန်းများ ကို လုပ်ကိုင် ဆောင်ရွက်ခြင်း မပြုပါ။ ထို့အပြင် ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံတော် အတွင်း၌ အချိန် ကာလ အားလျော်စွာ တည်မြဲနေသည့် တရား ဥပဒေပြဋ္ဌာန်းချက်များ၊ အမိန့် ကြော်ငြာစာများ၊ အမိန့်များနှင့် လျော်ညီ သင့်တော်ခြင်း သို့မဟုတ်၊ ခွင့် ပြုထားရှိခြင်း ရှိမှ သာလျှင် လုပ်ငန်းများကို ဆောင်ရွက်မည်ဟု ခြွင်းချက် ထားရှိပါသည်။

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် တန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

# ရွှေတောင်စွမ်းအား ဝန်ဆောင်မှု ကုမ္ပဏီ လီမိတက်

၏

သင်းဖွဲ့မှတ်တမ်း



၁။ ကုမ္ပဏီ၏ အမည်သည် " **ရွှေတောင်စွမ်းအား ဝန်ဆောင်မှု** ကုမ္ပဏီ လီမိတက် " ဖြစ်ပါသည်။

၂။ ကုမ္ပဏီ၏ မှတ်ပုံတင် အလုပ်တိုက်သည် ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း တည်ရှိရမည်။

၃။ ကုမ္ပဏီ တည်ထောင်ရခြင်း၏ ရည်ရွယ်ချက်များမှာ တစ်ဖက်စာမျက်နှာပါအတိုင်း ဖြစ်ပါသည်။

၄။ အစုဝင်များ၏ ပေးရန်တာဝန်ကို ကန့်သတ်ထားသည်။

၅။ ကုမ္ပဏီ၏ သတ်မှတ်မတည်ငွေရင်းသည် ကျပ် ၁,၀၀၀,၀၀၀,၀၀၀,၀၀၀ /- (ကျပ် **သန်းတစ်သိန်း** တိတိ) ဖြစ်၍ ငွေကျပ် ၁၀၀၀၀ /- (ကျပ် **တစ်သောင်း** တိတိ) တန် အစုရှယ်ယာပေါင်း ( ၁၀၀၀၀၀၀၀၀ ) ခွဲထားပါသည်။ ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိတရားဝင် တည်ဆဲဖြစ်နေသော တရားဥပဒေအထွေထွေ ပြဋ္ဌာန်းချက်များ နှင့် အညီ အထွေထွေ သင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့် နှင့် ပြင်ဆင်နိုင်ခွင့်အာဏာ ရှိစေရမည်။

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့်ကုမ္ပဏီ

# ရွှေတောင်စွမ်းအားဝန်ဆောင်မှု ကုမ္ပဏီ လီမိတက်

၏

## သင်းဖွဲ့မှတ်တမ်း

နှင့်

## သင်းဖွဲ့စည်းမျဉ်းများ



THE MYANMAR COMPANIES ACT

**PRIVATE COMPANY LIMITED BY SHARES**

# Memorandum Of Association

*AND*

# Articles Of Association

*OF*

**SHWE TAUNG ENERGY SERVICES COMPANY LIMITED**

ပို့ဆောင်ရေးဝန်ကြီးဌာန

မြန်မာ့ဆိပ်ကမ်းအာဏာပိုင်

နှင့်

ရွှေတောင်စွမ်းအားဝန်ဆောင်မှုကုမ္ပဏီလီမိတက်

**(Shwe Taung Energy Services Co., Ltd.)**

တို့အကြား

ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်-ကျောက်တန်းနယ်မြေ၊

သီလဝါဆိပ်ကမ်းဒေသတွင် စက်သုံးဆီတင်/ချ ဆိပ်ခံတံတားနှင့်

စက်သုံးဆီသိုလှောင်ဖြန့်ဖြူးရေးအဆောက်အအုံများ

တည်ဆောက်ပြီး ဝန်ဆောင်မှုလုပ်ငန်းကို B.O.T စနစ်ဖြင့်

လုပ်ငန်းဆောင်ရွက်ရန်အတွက် ချုပ်ဆိုသည့်

မြေငှားစာချုပ် (မူကြမ်း)

ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်-ကျောက်တန်းနယ်မြေ၊ သီလဝါဆိပ်ကမ်းဒေသတွင် စက်သုံးဆီတင်/ချ ဆိပ်ခံတံတားနှင့် စက်သုံးဆီ သိုလှောင်ဖြန့်ဖြူးရေး အဆောက်အအုံများ တည်ဆောက်ပြီး၊ B.O.T စနစ်ဖြင့် လုပ်ငန်းဆောင်ရွက်ရန်နှင့် လွှဲပြောင်းရန်အတွက် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်နှင့် ရွှေတောင်စွမ်းအားဝန်ဆောင်မှုကုမ္ပဏီလီမိတက် (Shwe Taung Energy Services Co., Ltd.) တို့အကြား ချုပ်ဆိုသည့်

မြေငှားစာချုပ် (မူကြမ်း)

ဤမြေငှားစာချုပ်ကို ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ ရန်ကုန်မြို့တွင် ၂၀၁၃ ခုနှစ်၊ ..... လ (.....) ရက်နေ့၌

ဦးချိုသန်းမောင်၊ ဦးဆောင်ညွှန်ကြားရေးမှူး ကိုယ်စားပြုသော ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်၊ ပို့ဆောင်ရေးဝန်ကြီးဌာန လက်အောက်ရှိ မြန်မာ့ဆိပ်ကမ်းအာဏာပိုင် (ဤမှနောင်တွင် "မြေငှားရမ်းသူ" ဟု ရည်ညွှန်းခေါ်ဆိုမည်ဖြစ်ရာ၊ ယင်းစကားရပ်တွင် စာသားအရသော်လည်းကောင်း၊ အဓိပ္ပါယ်အရသော်လည်းကောင်း၊ ရှေ့နောက်ဆန့်ကျင်ကွဲလွဲခြင်းမရှိပါက ၎င်း၏ဆက်ခံသူများနှင့် ခွင့်ပြုလွှဲအပ်သူများပါဝင်သည်ဟု မှတ်ယူရမည်) က တစ်ဖက်

နှင့်

ဦးအောင်ဇော်နိုင်၊ အုပ်ချုပ်မှုဒါရိုက်တာ၊ နိုင်ငံသားစိစစ်ရေးကဒ်ပြားအမှတ်၊ နိုင်ငံသားစိစစ်ရေးကဒ်ပြားအမှတ်၊ ၁၂/လမတ (နိုင်) ၀၂၅၇၅၈ ကိုယ်စားပြုသော ရန်ကုန်မြို့၊ အလုံမြို့နယ်၊ ကမ်းနားလမ်း၊ အလုံတာဝါတွင်ရှိ ရွှေတောင်စွမ်းအားဝန်ဆောင်မှုကုမ္ပဏီလီမိတက် (Shwe Taung Energy Services Co., Ltd) (ဤမှနောင်တွင် "မြေငှားချထားခြင်းခံရသူ" ဟု ရည်ညွှန်းခေါ်ဆိုမည်ဖြစ်ရာ၊ ယင်းစကားရပ်တွင် စာသားအရသော်လည်းကောင်း၊ အဓိပ္ပါယ်အရသော်လည်းကောင်း၊ ရှေ့နောက် ဆန့်ကျင်ကွဲလွဲခြင်းမရှိပါက ၎င်း၏ တရားဝင် ကိုယ်စားလှယ်များ၊ ဆက်ခံသူများနှင့် ခွင့်ပြုလွှဲအပ်သူများပါဝင်သည်ဟု မှတ်ယူရမည်) က အခြားတစ်ဖက်တို့ ချုပ်ဆိုကြပါသည်။

(က) "မြေငှားရမ်းသူ" သည် "ငှားရမ်းသည့်မြေ" ကို ဥပဒေအရ တရားဝင်ပိုင်ဆိုင်ခွင့်ရှိကြောင်း ကိုယ်စားပြု အာမခံချက်ပေးသဖြင့် လည်းကောင်း၊

(ခ) "မြေငှားရမ်းသူ" က ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်-ကျောက်တန်းနယ်မြေ၊ သီလဝါဆိပ်ကမ်းဒေသရှိ ပူးတွဲ (၁) တွင် အနီရောင်ဖြင့် ဘောင်ခတ်ထားသော မြေကွက်အမှတ် ၁၊ ၂ (C) ဧရိယာ (၂၄. ၇၁) ဧကအကျယ်အဝန်းရှိ မြေနေရာ (နောင်တွင် "ငှားရမ်းသည့်မြေ" ဟု ရည်ညွှန်းခေါ်ဆိုရမည်) ကို ငှားရမ်းလိုသော ဆန္ဒရှိပြီး၊ "မြေငှားချထားခြင်းခံရသူ" က အောက်တွင် ဆက်လက်ဖော်ပြမည့် စည်းမျဉ်း၊ စည်းကမ်းများနှင့်အညီ "ငှားရမ်းသည့်မြေ" တွင် စက်သုံးဆီတင်/ချ ဆိပ်ခံတံတားနှင့် အထောက်အကူပြုအဆောက်အအုံများ(နောင်တွင်"ရွှေတောင် စွမ်းအားဝန်ဆောင်မှုစီမံကိန်း" ဟု ရည်ညွှန်းခေါ်ဆိုမည်) ကို တည်ဆောက်၍ BOT စနစ်ဖြင့် လုပ်ငန်းလုပ်ကိုင်ရန်အတွက် အငှားရယူလိုသဖြင့်လည်းကောင်း၊

ဤမြေငှားစာချုပ်ကို နှစ်ဦးနှစ်ဖက် အကြေအလည်ညှိနှိုင်းပြီး အောက်ပါအတိုင်း သဘောတူချုပ်ဆိုကြပါသည်-

၁။ အောက်ဖော်ပြပါအတိုင်း မြေအသုံးချမှုပရီမီယံကြေးနှင့် မြေငှားခကို ပေးချေရန် သဘောတူညီချက်ကိုထောက်ထား၍ "မြေငှားရမ်းသူ" သည် "မြေငှားချထားခြင်းခံရသူ" သို့ BOT စနစ်ဖြင့် လုပ်ငန်းဆောင်ရွက်ရန် ချုပ်ဆိုသည့် ပဋိညာဉ်စာချုပ်၏ အပိုဒ်(၁၀) ပါ တည်ဆောက်ရေး ကာလစေ့ရောက်သည့်နေ့ (သို့မဟုတ်) တရားဝင်ဖွင့်လှစ်ခြင်း (Grand Opening) ပြုလုပ်သည့်နေ့၊ ထိုနေ့နှစ်ရပ်အနက် စောရာကာလမှ နှစ်ပေါင်း ၃၀ (သုံးဆယ်)နှစ် ခွင့်ပြုရန် သဘောတူညီသည်။

(က) မြေအသုံးချမှုပရီမီယံ။ "ငှားရမ်းသည့်မြေ" ကို မြေငှားစာချုပ်ပါ စည်းကမ်းချက်များနှင့်အညီ အငှားချထားမှုအတွက် မြေအသုံးချမှုပရီမီယံ ကြေးအဖြစ် မြေတစ်ဧကလျှင် ငွေကျပ်(၁၅၀) သိန်းနှုန်းဖြင့် စုစုပေါင်းငွေ ကျပ် ၃၇၀,၆၅၀,၀၀၀/- (ငွေကျပ် သုံးရာခုနစ်ဆယ်သန်း ခြောက်သိန်း ငါးသောင်းတိတိ)ကို "မြေငှားချထားခြင်းခံရသူ" က "မြေငှားရမ်းသူ" ထံ အောက်ပါအတိုင်း ပေးသွင်းရမည်-

